လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ဒုတိယဝန်ကြီး ချုပ်ရုံး
ရန်ကုန်မြို့။

စာအမှတ်၊ (ဒု) ၀၁၇/ ရင်းနှီး / ၁(၃၄၇)
ရက်စွဲ ၊ ၁၉၉၇ ခုနှစ်၊ စက်တင်ဘာလ ၂၄ ရက်

## ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ။ မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်မှ အသင့်သုံးစွဲနိုင်သော 3 in 1 Instant Coffee Mix ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက် (Myat Myint Moh Co., Ltd. ) မှ အသင့်သုံးစွဲနိုင်သော 3 in 1 Instant Coffee Mix ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၁၂-၉-၉၇) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၅/၉၇) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်း ဆုံးဖြတ်ချက်အရ အစိုးရအဖွဲ့သို့ဆက်လက်တင်ပြခြင်း ဖြစ်ပါသည်၊ အဆိုပြုချက်နှင့်အတူ စက်ပစ္စည်း ဝယ်ယူရန် ရွှေ့ဆိုင်း ငွေပေး ချေခြင်း စနစ်သဘောတူစာချုပ် ( မူကြမ်း ) ကို နောက်ဆက်တွဲ ( ၁ ) အဖြစ် ပေးပို့ထားပါသည်။

လျှို့ဝှက်

၂။ ဤလုပ်ငန်း၏မတည်ငွေရင်း ပမာဏမှာ နိုင်ငံခြား ငွေအမေရိကန် ဒေါ်လာ (၀.၁၁၅) သန်း အပါအဝင်ကျပ် (၂၀.၆၉) သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသား ကျပ် (၄.၆၃) သန်း၊ စက်ပစ္စည်း ကိရိယာတန်ဖိုး ကျပ် (၀.၈၁) သန်း [အမေရိကန် ဒေါ်လာ (၀.၀၉၈) သန်း အပါအဝင်]၊ အဆောက်အဦတန်ဖိုး ကျပ် (၉.၀၀) သန်း၊ မြေတန်ဖိုး ကျပ် (၂.၀၀) သန်း၊ ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်း တန်ဖိုး ကျပ် (၃.၆၁) သန်း၊ ကုန်ကြမ်း တန်ဖိုး ကျပ် (၀.၆၄) သန်း [အမေရိကန် ဒေါ်လာ (၀.၀၁၇) သန်း အပါအဝင်] ထည့်ဝင်ရင်းနှီး မည်ဖြစ်ပါသည်။ စက်ပစ္စည်း ကိရိယာများ ကို စင်ကာပူနိုင်ငံ၊ Sanmas Co., Pte. Ltd. မှ ရွှေ့ဆိုင်း ငွေပေး ချေခြင်း စနစ်အရအတိုး မဲ့ဝယ်ယူမည်ဖြစ်ပြီး (၆) နှစ်အတွင်း အရစ်ကျပေး ဆပ်မည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်း ကို ဆောင်ရွက်ရန်ကမကထပြုသူ ဒေါ်အေး အေး စိန်အမည်ဖြင့်အသုံး ပြုခွင့်ရရှိထား သောမြို့ရွာနှင့်အိုး အိမ်ဖွံ့ဖြိုး ရေး ဦး စီး ဌာနပိုင် ရန်ကုန်မြို့၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်ဒေသ၊ မြေကွက်အမှတ် ၁၃၈(က)၊ မြေတိုင်းရပ်ကွက်အမှတ် (၄၂)ရှိ မြေ၀.၆၉၆ဧက (၂၈၁၆.၆၁၀တုရန်း မီတာ) ပေါ်တွင် စက်ရုံတည်ဆောက်ပြီး Gold Cafe အမှတ်တံဆိပ် 3 in 1 Instant Coffee Mix ထုတ်လုပ်သွား မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်း မှပုံမှန်နှစ်တွင် 3 in 1 Instant Coffee Mix အိတ်ရေ (၀.၇၀) သန်း ထုတ်လုပ်မည်ဖြစ်ရာ ထုတ်လုပ်မှု၏ (၅၀) ရာခိုင်နှုန်း ကို ပြည်ပသို့တင်ပို့ရောင်း ချပြီး၊ ပြည်တွင်း တွင် (၅၀) ရာခိုင်နှုန်း ရောင်း ချမည် ဖြစ်ပါသည်။ ရောင်း ဈေး နှုန်း များ မှာ ပုံမှန်နှစ်တွင်တစ်အိတ်လျှင်ပြည်ပသို့အမေရိကန် ဒေါ်လာ (၂.၆၀) နှုန်း ဖြင့်လည်း ကောင်း၊ ပြည်တွင်း တွင်ကျပ် (၉၄၇၅) နှုန်း ဖြင့်လည်း ကောင်း ရောင်း ချမည်ဖြစ်ပါသည်။

၅။ ဤလုပ်ငန်း အတွက်လိုအပ် သောကုန်ကြမ်း များ ကိုပြည်တွင်း ပြည်ပမှ ဝယ်ယူမည်ဖြစ် ကြောင်း တင်ပြထား ပါသည်။

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင်ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၁၆၆.၂၅ | ၅.၄၆ | ၁၇၁.၇၁ |
| (ခ) အသုံးစရိတ် | ၁၆၂.၆၂ | ၅.၃၈ | ၁၆၈.၀၀ |
| (ဂ) အသားတင်အမြတ် | ၃.၆၃ | ၀.၀၈ | ၃.၇၁ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | |
|---|---|
| (က) ဝင်ငွေခွန် (အမေရိကန်ဒေါ်လာသန်း) | ၀.၀၀၄ |
| (ကျပ်သန်း) | ၁.၇၅ |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် (ကျပ်သန်း) | ၁၂.၀၆ |

၈။ ဤလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၃၀) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာ လျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်စေရန် ဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာမည်ဖြစ်ကြောင်း ကတိဝန်ခံချက်ပေးထားပါသည်။

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် အမှတ် (၁) စက်မှုဝန်ကြီးဌာန သို့သဘောထားမှတ်ချက် တောင်းခံရာ ခွင့်ပြုနိုင်ပါကြောင်း အကြောင်းပြန်ကြားလာပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်

ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ အနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်မှ အသင့်သုံး ဖျော်နိုင်သော 3 in 1 Instant Coffee Mix ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

(ခ) လုပ်ငန်း ဆောင်ရွက်ရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုရန် သဘောတူ - မတူ။

၁၃။ ဒုတိယဝန်ကြီးချုပ်ရုံး၏ ထောက်ခံချက်။

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

[ဗိုလ်မှူးချုပ် မောင်မောင်]
ဝန်ကြီး
ဒုတိယဝန်ကြီးချုပ်ရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်၊ ရက - ၆ (ခ)/ ၇၉၀/ ၉၇( ၉၆၂ )။
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ စက်တင်ဘာလ ၉ ရက်။

အမှာစာ

အကြောင်းအရာ။ ။ မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်မှ အသင့်သုံးဖျော်နိုင်သော 3 in 1 Instant Coffee Mix ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက် ( Myat Myint Moh Co., Ltd ) မှ အသင့်သုံးဖျော်နိုင်သော Instant Coffee Mix ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို ( ၅-၉-၉၇ ) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၁၆/၉၇ ) ကြိမ်မြောက်ကြိုတင်ညှိနှိုင်း အစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ ဆက်လက်တင်ပြရန်သုံးသပ်ခဲ့ပါသည်။ ယင်းသုံးသပ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ စက်ပစ္စည်းဝယ်ယူရန် ရွှေ့ဆိုင်းငွေပေးချေခြင်းစံနစ် သဘောတူစာချုပ် ( မူကြမ်း ) နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများကို နောက်ဆက်တွဲ ( ၁ ) တွင်တင်ပြထားပါသည်။

၂။ ဤလုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ ( ၀.၁၁၅ ) သန်း အပါအဝင်ကျပ် ( ၂၀.၆၉ ) သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသား ကျပ် ( ၄.၆၃ ) သန်း၊ စက်ပစ္စည်းကိရိယာတန်ဖိုး ကျပ် ( ၀.၈၁ ) သန်း [အမေရိကန်ဒေါ်လာ (၀.၀၉၇) သန်း အပါအဝင်] အဆောက်အဦတန်ဖိုး ကျပ် ( ၉.၀၀ ) သန်း၊ မြေတန်ဖိုး ကျပ် ( ၂.၀၀ ) သန်း၊ ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းတန်ဖိုး ကျပ် ( ၃.၆၁ ) သန်း၊ ကုန်ကြမ်းတန်ဖိုး ကျပ် ( ၀.၆၄ ) သန်း [အမေရိကန်ဒေါ်လာ(၀.၀၁၇) သန်း အပါအဝင်] ပါဝင်သည့် ငွေရင်းနှီးမည်ဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာများကို စင်ကာပူ

လျှို့ဝှက်

နိုင်ငံ၊ Sanmas Co., Pte Ltd. မှ ငွေရင်း ငွေပေး ချေကြောင်း [illegible] ဝယ်ယူထားခြင်းဖြစ်ပြီး ( ၆ ) နှစ်ကာလအတွင်း အရင်းကျေပေးဆပ်မည်ဖြစ်ပါသည်။

၃။ ၎င်းလုပ်ငန်းကို ဆောင်ရွက်ရန်ကမကထပြုသူ ဒေါ်အေးအေးခိုင်၏အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင်ရန်ကုန်မြို့၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်၊ မြေကွက်အမှတ် ၁၃၀(က)၊ မြေတိုင်းရပ်ကွက်အမှတ် ၄၂ ရှိ မြေ ၀.၆၉၆၈ ဧက ( ၂၈၁၆.၆၁ စတုရန်းမီတာ) ပေါ်တွင်စက်ရုံ တည်ဆောက်ပြီး Gold Cafe ကုန်အမှတ်တံဆိပ် 3 in 1 Instant Coffee Mix ထုတ်လုပ်သွားမည်ဖြစ်ပါသည်။

၄။ ၎င်းလုပ်ငန်းမှ ပုံမှန်နှစ်တွင် 3 in 1 Instant Coffee Mix အိတ်ရေ ( ၀.၇၀ ) သန်း ထုတ်လုပ်မည်ဖြစ်ရာ ထုတ်လုပ်မှု၏ ( ၅၀ ) ရာခိုင်နှုန်းကို ပြည်ပသို့ တင်ပို့ရောင်းချပြီး ၊ ပြည်တွင်းတွင် ( ၅၀ ) ရာခိုင်နှုန်း ရောင်းချမည်ဖြစ်ပါသည်။ ရောင်းဈေးနှုန်းများမှာ ပုံမှန်နှစ်တွင်တစ်အိတ်လျှင် ပြည်ပသို့ အမေရိကန်ဒေါ်လာ ( ၂.၆၀ ) နှုန်းဖြင့်လည်းကောင်း ၊ ပြည်တွင်းတွင်ကျပ် ( ၄ ၇၅ ) နှုန်းဖြင့်လည်းကောင်း ရောင်းချမည်ဖြစ်ပါသည်။

၅။ ၎င်းလုပ်ငန်းအတွက်လိုအပ်သော ကုန်ကြမ်းများကို ပြည်တွင်း ပြည်ပ မှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ ၎င်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင်ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

( ကျပ်သန်း )

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| ( က ) ဝင်ငွေ | ၁၆၆.၂၅ | ၅.၄၆ | ၁၇၁.၇၁ |
| ( ခ ) အသုံးစရိတ် | ၁၆၂.၆၂ | ၅.၃၈ | ၁၆၈.၀၀ |
| ( ဂ ) အသားတင်အမြတ် | ၃.၆၃ | ၀.၀၈ | ၃.၇၁ |

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်စဉ်ရရှိမည့်အကျိုး အမြတ်ငွေနှုန်း အကြမ်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | |
|---|---|---|
| (က) ဝင်ငွေခွန် | (အမေရိကန်ဒေါ်လာသန်း) | ၀.၀၀၄ |
| | (ကျပ်သန်း) | ၁.၇၅ |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် | (ကျပ်သန်း) | ၁၂.၀၆ |

၇။ ဤလုပ်ငန်း ဆောင်ရွက်ရန်အတွက်ပြည်တွင်းမှ ဝန်ထမ်း (၃၀) ဦး၊ ပြည်ပမှဝန်ထမ်း (၁) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် ငွေကြေးဆိုင်ရာအထောက်အထား အဖြစ်ပြတ်ဖြင့်ဖိုရိုကုမ္ပဏီလီမိတက်၏အာမခံနဘဏ်လီမိတက်ရှိဘဏ်ငွေရင်း ကိုတင်ပြထားပါသည်။

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် မော်တော်ယာဉ်တင်သွင်းခွင့်နှင့်ပတ်သက်၍တည်ဆောက်ရေးကာလအတွင်း Saloon (၁) စီးနှင့် Pick-up (၁) စီး တို့ကိုအခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်းစတင်ဆောင်ရွက်ချိန်တွင် Saloon (၁) စီးနှင့် Pick-up (၁) စီး ကိုအခွန်အကောက် (၅၀) ရာခိုင်နှုန်းသက်သာခွင့်ဖြင့်လည်းကောင်း တင်သွင်းခွင့်ပြုရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၆/၉၇) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးမှ ဆုံးဖြတ်ခဲ့ပါသည်။

၁၁။ ဤလုပ်ငန်းသည်မြန်မာနိုင်ငံသားများ သာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှမည်သူမှပိုင်ဆိုင်မှုမရှိကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်စေရန် ဆောင်ရွက်မည်ဖြစ်ကြောင်း နှင့် မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှသတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်း သတ်မှတ်ချက်များ ကိုလိုက်နာမည်ဖြစ်ကြောင်း ကတိဝန်ခံချက် ပေးထားပါသည်။

၁၂။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက်အမှတ် (၁) စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံရာ ခွင့်ပြုနိုင်ပါကြောင်း အကြောင်းပြန်ကြားလာပါသည်။

၁၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂(က)အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင်တစ်ဆက်တည်း (၃) နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်၊ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို တောင်းခံထားရာ ယင်းအပေါ် သုံးသပ်တင်ပြချက်ကို ပူးတွဲတင်ပြထားပါသည်။

၁၄။ ဆုံးဖြတ်ရန်အချက်။

(က) မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်မှ အသင့်သုံး ဖျော်နိုင်သော 3 in 1 Instant Coffee Mix ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

(ခ) သဘောတူပါကအထက်အပိုဒ် (၁၃) ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန်သဘောတူ - မတူ။

တွဲဖက်အတွင်းရေးမှူး (ကိုယ်စား)
[ သိင်္ဂီတင်၊ ဒေသဒုတိယညွှန်ကြားရေးမှူးချုပ် ]

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။



*၅၉/၉/၉၇။

ပူးတွဲ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သောနိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစားခွင့် ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ခ) အရ လုပ်ငန်းမှပြည်ပတင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ် ၅၀ ရာခိုင်နှုန်း ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျက် ပထမဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီး နောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့်ပြည်တွင်းပြည်ပဂင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ကိုလုပ်ငန်း အကောင်အထည်ဖော်မှုအရ လျှောက်ယားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဃ) အရ သွင်းကုန်အစားထိုး လုပ်ငန်း အဖြစ်အကျိုးအမြတ်နည်းသည့်လုပ်ငန်း အပေါ်သင့်လျော်သောကာလ အထိဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကိုအကျုံးဝင်ခြင်းမရှိဟုသုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဂ) အရ လုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့်ကို အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဃ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတိုနှင့် မူလတန်ဖိုးပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့်ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်းအတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း တင်သွင်းလာသည့် စက်ပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့် ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလ ကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ည) အရ ထုတ်လုပ်မည့်ပစ္စည်းများ ပြည်ပသို့ တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်ကို ခွင့်ပြုသင့်ပါသည်။



* အေး * ၈ - ၉ - ၉၇

(၁၂.၉.၉၇) ၁၃/၉၇ MIC မှတ်တမ်း



| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| ၅။ | <u>မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်မှအသင့်သုံးစွဲနိုင်သော 3 in 1 Instant Coffee Mix - ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ</u>။<br>ကော်မရှင်၏ ၉-၉-၉၇ ရက်စွဲပါစာအမှတ်၊ ရက-၆(ခ)/ ၇၉၈/၉၇(၉၆၂)။<br>ညွှန်ကြားရေးမှူး ဦးသင်းမောင်ကအမှာစာကိုရှင်းလင်းတင်ပြပါသည်။<br><u>ဆုံးဖြတ်ချက်</u>။ | |
| | (၁) မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်မှအသင့်သုံးစွဲနိုင်သော 3 in 1 Instant Coffee Mix - ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စကိုကော်မရှင်မှမူအားဖြင့်သဘောတူသဖြင့်အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်၊ | အတွင်းရေးမှူး |
| | (၂) လုပ်ငန်းနှင့်သက်ဆိုင်သည့်အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန်၊ | |

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် (၁) စက်မှုဝန်ကြီးဌာန

အမှာစာအမှတ်၊ [illegible]

ရုံးချုပ်၊ ရန်ကုန်မြို့၊ ၁၉၉၇ ခု၊ ဩဂုတ် လ ___ ရက်။

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉၉၇ ခုနှစ်၊ ဩဂုတ်လ ၇ ရက် နေ့စွဲပါစာအမှတ်၊ ရက-၁/ မ-၁၃၀/၉၇(၇၆၁)

၁။ မြတ်မြင့်မိုရ်ကူ မွတ်လီမီတက်မှ ရန်ကုန်တိုင်း ရွှေပြည်သာမြို့နယ်၊ စက်မှုဒေသတွင် စက်ရုံတည်ဆောက်ပြီး အသင့်သုံးနိုင်သော 3 in 1 Coffee Mix ထုတ်လုပ်ခြင်းလုပ်ငန်းကိုလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြထားခြင်းနှင့် ပတ်သက်၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှအထက်ရည်ညွှန်းစာဖြင့် ဤဝန်ကြီးဌာန၏သဘောထားမှတ်ချက်ကိုတောင်းခံထားပါသည်။

၂။ မြတ်မြင့်မိုရ်ကူ မွတ်လီမီတက်အနေဖြင့် ရွှေပြည်သာမြို့နယ်စက်မှုဒေသတွင်စက်ရုံတည်ဆောက်ပြီး အသင့်သုံးနိုင်သော 3 in 1 Coffee Mix ထုတ်လုပ်ခြင်းလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်လိုခြင်းကိုဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

ဝန်ကြီး ( [signature] )
( မြင့်ဆွေ၊ ဗိုလ်မှူးချုပ် )

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

သို့ ... ကို
- ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့စားသောက်ကုန်လုပ်ငန်း

ရွှေ/***

| အစဉ် | ဆွေးနွေးချက်နှင့်ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် / သိသာရန် |
| --- | --- | --- |
| ၁ | ၂ | ၃ |
| ၄။ | **မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက် ( Myat Myint Moh Co., Ltd. ) မှအသင့်သုံးစွဲနိုင်သော 3 in 1 Instant Coffee Mix – ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ။**<br><br>တွဲဖက်အတွင်းရေးမှူး ဦးမောင်မောင်ဂိုကအဆိုပြုတင်ပြချက်၏အဓိကအချက်အလက်များကိုရှင်းလင်းတင်ပြပါသည်။<br><br>ဒုတိယဝန်ကြီးချုပ်၊ ဒုတိယဗိုလ်ချုပ်ကြီးမောင်မောင်ခင်က စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာကျပ်သန်း ၂၀ ဖြစ်ရာ မော်တော်ယာဉ်တင်သွင်းခွင့်နှင့်စပ်လျဉ်း၍ တည်ဆောက်ဆဲကာလတွင် Saloon ၁စီး နှင့် Pick-up ၁စီး တို့ကိုအကောက်ခွန်ကင်းလွတ်ခွင့်ဖြင့်တင်သွင်းခွင့်ပြုရန်နှင့်လုပ်ငန်း ဆောင်ရွက်သည့်ကာလအတွင်း Saloon ၁စီးနှင့် Pick-up ၁စီး တို့ကိုအကောက်ခွန်၅၀ % သက်သာခွင့်ဖြင့်တင်သွင်းခွင့်ပြုရန်ဖြစ် ကြောင်း ပြောကြားပါသည်။<br><br>**ဆုံးဖြတ်ချက်**<br><br>(၁) အဆိုပြုလုပ်ငန်း ကို ဆောင်ရွက်ရန်မူအားဖြင့် သဘောတူကြောင်းနှင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ဆက်လက်တင်ပြရန်၊<br><br>(၂) မော်တော်ယာဉ်တင်သွင်းခွင့်နှင့်စပ်လျဉ်း၍ တည်ဆောက်ဆဲကာလတွင် Saloon ၁စီးနှင့် Pick-up ၁စီးတို့ကိုအခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်တင်သွင်းခွင့်ပြုရန်နှင့်လုပ်ငန်း ဆောင်ရွက်သည့်ကာလအတွင်း Saloon ၁စီးနှင့် Pick-up ၁စီး တို့ကိုအခွန်အကောက်၅၀ % သက်သာခွင့်ဖြင့်တင်သွင်း ခွင့်ပြုရန်၊ | အတွင်းရေးမှူး |

လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏ အဓိကအချက်များ
(မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်<br>( Myat Myint Moh Co., Ltd )<br>(မြန်မာကုမ္ပဏီ ၂၇-၁၀-၉၆ နေ့တွင်မှတ်ပုံတင်ပြီး) |
| ၂ | လုပ်ငန်းအဆိုပြုသူအမည် | ဒေါ်အေး အေး စိန် |
| ၃ | အဆိုပြုလုပ်ငန်းအမျိုးအစား | အသင့်သုံးနိုင်သော 3 in 1 Coffee Mix ထုတ်လုပ်ခြင်း။ |
| ၄ | တည်နေရာ | မြေကွက်အမှတ် ၁၃၀ (က)၊ မြေတိုင်း ရပ်ကွက်အမှတ် ၄၂၊ စက်မှုဒေသ၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့။ |
| ၅ | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ကျပ် ၂၀.၆၉ သန်း (US $ ၀.၁၁၅ သန်းအပါအဝင်) |
| | - ငွေပမာဏ | ကျပ် ၄.၆၃ သန်း |
| | - စက်ပစ္စည်း၊ ကိရိယာ | |
| | -ပြည်တွင်း | ကျပ် ၀.၂၂ သန်း |
| | -ပြည်ပ | ကျပ် ၀.၅၉ သန်း (US $ ၀.၀၉၈ သန်း) |
| | -အဆောက်အဦ | ကျပ် ၉.၀၀ သန်း |
| | - မြေ | ကျပ် ၂.၀၀ သန်း |
| | -ပရိဘောဂနှင့်လုပ်ငန်းပစ္စည်း | ကျပ် ၃.၆၀ သန်း |
| | -ကုန်ကြမ်း | |
| | -ပြည်တွင်း | ကျပ် ၀.၅၄ သန်း |
| | -ပြည်ပ | ကျပ် ၀.၁၀ သန်း ( US$ ၀.၀၁၇ သန်း ) |
| ၆ | မြေအကြောင်းအရာ | |
| | - မြေအကျယ်အဝန်း | ၀.၆၉၆ ဧက ( ၂၈၁၆.၆၁ စတုရန်း မီတာ ) |
| | - မြေအမျိုးအစား | စက်မှုမြေ |
| | - မြေပိုင်ဆိုင်မှု | ကမကထပြုသူ ဒေါ်အေး အေး စိန်အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင်မြေ။ |

| | | |
|---|---|---|
| ၇ | ထုတ်လုပ်မှု(ကော်ဖီ) | ပုံမှန်နှစ် |
| | - 3 in 1 Coffee Mix | |
| | -ပြည်တွင်းရောင်း( ၅၀ %) | ၃၅၀၀၀၀ |
| | -ပြည်ပ ရောင်း ( ၅၀ %) | ၃၅၀၀၀၀ |
| ၈ | ရောင်း ဈေး နှုန်း(တစ်အိတ်) | ပုံမှန်နှစ် |
| | -ပြည်တွင်း | ကျပ် ၄၇၅ |
| | -ပြည်ပ | US $ ၂.၆၀ |
| ၉ | ဝင် ငွေ | ပုံမှန်နှစ် |
| | - နိုင်ငံခြား ငွေဖြင့် | US $ ၀.၈၁ သန်း |
| | -ကျပ် ငွေဖြင့် | ကျပ် ၁၆၆.၂၅ သန်း |
| ၁၀ | အသားတင်အမြတ် | ပုံမှန်နှစ် |
| | - နိုင်ငံခြား ငွေဖြင့် | US$ ၀.၀၃ သန်း |
| | -ကျပ် ငွေဖြင့် | ကျပ် ၄.၈၅ သန်း |
| ၁၁ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုး အမြတ် | |
| | - ဝင် ငွေခွန် | |
| | - နိုင်ငံခြား ငွေဖြင့် | US$ ၀.၀၀၅ သန်း |
| | -ကျပ် ငွေဖြင့် | ကျပ် ၂.၁၂ သန်း |
| | -ကုန်သွယ်လုပ်ငန်း ခွန် | |
| | -ကျပ် ငွေဖြင့် | ကျပ်၁၂.၀၆ သန်း |
| ၁၂ | တည်ဆောက်မှုကာလ | ၆ လ |
| ၁၃ | ဝန်ထမ်း | ၃၈ ဦး |
| | -ပြည်တွင်း | ၃၇ ဦး |
| | -ပြည်ပ | ၁ ဦး |

| | | |
|---|---|---|
| ၁၄ | အခြား | - စက်ပစ္စည်း ကိရိယာများကို စင်ကာပူနိုင်ငံ Sanmas Co.Pte Ltd မှ ရွှေ့ဆိုင်း ငွေပေးချေခြင်း စနစ်အရ အတိုးမဲ့ (၆) နှစ်အတွင်း အရစ်ကျ ပေးဆပ်မည်ဖြစ်ပါသည်။<br><br>- စက်ပစ္စည်း စာရင်းတွင် ကျပ်ငွေဖြင့် Van (၁) စီး ၊ Bicycle (၁) စီး ၊ နိုင်ငံခြားငွေဖြင့် Saloon Car (၂) စီး ၊Mini Bus (၂) စီး ၊Pick-up (၂) စီး နှင့် Light Trucks (၂) စီး ပါဝင်ပါသည်။<br><br>- ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း နှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက် ပေးထားပါသည်။<br><br>- Coffee Mix များကို မိမိကိုယ်ပိုင်တံဆိပ် ဖြစ်သော Gold Cafe တံဆိပ်ဖြင့် ထုတ်လုပ်မည်ဖြစ်ပါသည်။<br><br>- အမှတ် (၃) စက်မှုဝန်ကြီးဌာနသို့ သဘောထား မှတ်ချက်တောင်းခံရာ ကန့်ကွက်ရန်မရှိကြောင်း အကြောင်းပြန်ကြားလာပါသည်။ |



*၅၂/၉/၉၇။

အလျင်အမြန်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမှတ် (၁) စက်မှုဝန်ကြီးဌာန

အမှာစာအမှတ် ၅၁/၁၈ (၁)(၃၃၀၉)/၉၇ (၁၆၅၈)

ချက်စုံ၊ ရန်ကုန်မြို့၊ ၁၉၉၇ ခု၊ ဩဂုတ် လ ၁၅ ရက်။

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉၉၇ ခုနှစ်၊ ဩဂုတ်လ ၇ ရက်နေ့စွဲပါစာအမှတ်၊ ရက-၁/မ-၁၃၈/၉၇(၇၆၁)

၁။ မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်း ရွှေပြည်သာမြို့နယ်၊ စက်မှုဒေသတွင် စက်ရုံတည်ဆောက်ပြီး အသင့်သုံးနိုင်သော 3 in 1 Coffee Mix ထုတ်လုပ်ခြင်းလုပ်ငန်းကိုလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြထားခြင်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှအထက်ရည်ညွှန်းစာဖြင့် ဝန်ကြီးဌာန၏သဘောထားမှတ်ချက်ကိုတောင်းခံထားပါသည်။

၂။ မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်အနေဖြင့် ရွှေပြည်သာမြို့နယ်စက်မှုဒေသတွင်စက်ရုံတည်ဆောက်ပြီး အသင့်သုံးနိုင်သော 3 in 1 Coffee Mix ထုတ်လုပ်ခြင်းလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်လိုခြင်းကို ဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

ဝန်ကြီး ( )

( မြင့်ဆွေ၊ ဗု အ[illegible]မှူး )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူကို

- ဦးဆောင်သွန်ကြားရေးမှူး
  မြန်မာ့စားသောက်ကုန်လုပ်ငန်း

ငွေ/***

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
၆၅၃/၆၆၇၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့.

Telex 21368 INVEST BM
Fax : 095 - 01 - 82101

တယ်လီဖုန်း – ၇၂၀၀၉
– ၇၂၂၁၉
– ၇၂၈၇၀

စာအမှတ်၊ ရက-၁/မ-၁၃၀/၉၇(၇၆၁ )၊
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ ဩဂုတ်လ ၅ ရက်။

အကြောင်းအရာ။ ။သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ။

ရည်ညွှန်းချက်။ ။မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်၏ (၂၅-၇-၉၇) ရက်စွဲပါစာ။

၁။ မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဒေသ၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ်(၁၃၀/က)ရှိ မြေ (၀.၆၉၆ဧက)တွင် စက်ရုံတည်ဆောက်ပြီး၊ အသင့်သုံးနိုင်သော **3in 1 Coffee Mix** ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အထက်ရည်ညွှန်းပါစာဖြင့် ဤကော်မရှင်သို့တင်ပြလျှောက်ထားလာပါသည်။ (ပူးတွဲ)

၂။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများအခန်း(၃)၊ အပိုဒ် ၁၀ ပါပြဋ္ဌာန်းချက်နှင့်အညီအဆိုပြုချက်နှင့် ပတ်သက်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏သဘောထားမှတ်ချက်ကို တောင်းခံရယူရန်လိုအပ်ပါသဖြင့် အဆိုပြုချက်ပါလုပ်ငန်းနှင့်စပ်လျဉ်း၍ အမှတ်(၁)စက်မှုဝန်ကြီးဌာန၏သဘောထားမှတ်ချက်ကိုပြန်ကြားပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

တွဲဖက်အတွင်းရေးမှူး (ကိုယ်စား)
[ဝီဝီဝင်း၊ ညွှန်ကြားရေးမှူး]

ရုံးအဖွဲ့မှူး၊
အမှတ်(၁)စက်မှုဝန်ကြီးဌာန။

ပူးတွဲ(၁) အဆိုပြုချက်။
(၂) ဘဏ္ဍာရေးအချက်အလက်များနှင့်ပတ်သက်၍တွက်ချက်မှုဇယားများ။
(၃) ငွေရေးကြေးရေးဆိုင်ရာအထောက်အထား။
(၄) မြေနှင့်ပတ်သက်သောအထောက်အထား။
(၅) ကုမ္ပဏီမှတ်ပုံတင်လက်မှတ်(မိတ္တူ)။
(၆) Loan Agreement (draft)

* ဝိနိ ၀-၈-၉၇။

<u>မာတိကာ</u>

- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့အဆိုပြုချက်။

- အခွန်များဆိုင်ရာကင်းလွတ်ခွင့်လျှောက်ထားချက်

- မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်သည်မြန်မာနိုင်ငံသားများနှင့်သာဖွဲ့စည်းထားခြင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုတို့ကိုတားဆီးကာကွယ်ရေး၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှချမှတ်ထားသောစည်းကမ်းတို့ကိုလိုက်နာပါမည့် အကြောင်းကတိခံဝန်ချက်။

- မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီမြန်မာနိုင်ငံသားများနှင့်သာဖွဲ့စည်းထားသော မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်၏ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်။

- မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်ပုံစံ (မနသ – ၁ )

- နောက်ဆက်တွဲ (၁) မှ (၂၁)

- မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်နှင့် SANMAS CO. PTE LTD တို့၏သဘောတူညီချက် (မူကြမ်း)

- ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်တို့၏နှစ်(၆၀)မြေငှားစာချုပ်

- မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (မိတ္တူ)

- မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်၏ ထုတ်ကုန်သွင်းကုန်လုပ်ငန်းရှင်မှတ်ပုံတင်လက်မှတ် (မိတ္တူ)

- ယာယီကုန်အမှတ်တံဆိပ်တင်ပြအစီရင်ခံစာ

- လက်ရှိ ပုံစံ (၆) နှင့် ပုံစံ (၂၆) (မိတ္တူ)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်

နေ့စွဲ ။ ။ ၁၉၉၇ ခုနှစ်၊ စက်တင်ဘာလ(၁၈)ရက်

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့အဆိုပြုချက်များပေးပို့ခြင်း</u>

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်မတို့၏ မြတ်မြင့်မိုရ်ကုမ္ပဏီသည် အမှတ်(၁၃၈)(က)၊ မဟော်ဂနီလမ်း၊ ရွှေပြည်သာစက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့ရှိ(ဝ.၆၉၆ဧက)အကျယ်အဝန်းရှိ သောမြေနေရာတွင် Coffee Mix ထုတ်လုပ်မည့်စက်ရုံတည်ဆောက်ပြီးမြန်မာနိုင်ငံတော်တွင် Coffee Mix ထုတ်လုပ်ရောင်းချနိုင်ရန်အတွက်ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကိရိယာများဖြင့်ထုတ်လုပ်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ကိုလျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

ထိုသို့တင်ပြလျှောက်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးမှညှိနှိုင်းပြင်ဆင်ရန်အချက်များအားပြန်လည်ပြင်ဆင်ပြီးဖြစ်ပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ဆုံးဖြတ်ချက်အရ ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရအဖွဲ့သို့ ဆက်လက်တင်ပြခွင့်ပြုချက်ရယူနိုင်ရန်အတွက် အဆိုပြုလွှာ(၂၅)စုံကိုပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်
လျှောက်ထားသူ

(ဒေါ်အေးအေးစိန်)
မန်နေဂျင်းဒါရိုက်တာ
မြတ်မြင့်မိုရ်ကုမ္ပဏီ

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်

နေ့စွဲ ။ ။ ၁၉၉၇ ခုနှစ်၊ စက်တင်ဘာလ(၉)ရက်

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့အဆိုပြုချက်များပေးပို့ခြင်း</u>

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်မတို့၏ မြတ်မြင့်မိုရ်ကုမ္ပဏီသည် အမှတ်(၁၃၈)(က)၊ မဟော်ဂနီလမ်း၊ ရွှေပြည်သာစက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့ရှိ(၀.၆၉၆၈ဧက)အကျယ်အဝန်းရှိ သောမြေနေရာတွင် Coffee Mix ထုတ်လုပ်မည့်စက်ရုံတည်ဆောက်ပြီးမြန်မာနိုင်ငံတော်တွင် Coffee Mix ထုတ်လုပ်ရောင်းချနိုင်ရန် အတွက်ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကိရိယာများဖြင့်ထုတ်လုပ်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ကိုလျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြတ်မြင့်မိုရ်ကုမ္ပဏီ၏ အဆိုပြုလွှာကို လိုအပ်သလို စီစစ်ပေးနိုင်ရန်အတွက်အဆိုပြုလွှာ(၁၅)စုံကိုပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်
လျှောက်ထားသူ

(ဒေါ်အေးအေးစိန်)
မန်နေဂျင်းဒါရိုက်တာ
မြတ်မြင့်မိုရ်ကုမ္ပဏီ

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၁၉၉၇ ခုနှစ်၊ ဇူလိုင်လ (၂၅)ရက်

အကြောင်းအရာ ။ ။နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ [ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ ဥပဒေအမှတ် ၄/၉၄ ] ၁၃၅၅ ခုနှစ်၊ တပေါင်းလပြည့်ကျော်(၅)ရက် (၁၉၉၄ ခုနှစ်၊ မတ်လ(၃၁)ရက်) အခန်း(၇) ဥပဒေအမှတ်(၁၂၊၁၃)တို့ အရအခွန်များဆိုင်ရာကင်းလွတ်ခွင့် လျှောက်ထားခြင်း။

မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်၏ ကာလတို၊ ကာလရှည်စီမံကိန်းအောင်မြင်စေရန်ကုန်ထုတ်စွမ်းအားမြင့်မားစေရေးအတွက်လည်းကောင်း၊ လုပ်ငန်းစွမ်းဆောင်ရည်တိုးတက်စေရေးအတွက်လည်းကောင်း၊ ကုန်ပစ္စည်းအရည်အသွေးပိုမိုကောင်းမွန်စေရေးအတွက်လည်းကောင်း၊ ပြည်တွင်းပြည်ပဈေးကွက်များတွင်ဈေးပြိုင်၍ထိုးဖောက်ဝင်ရောက်နိုင်ရေးအတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံသားများနှင့်သာ ဖွဲ့စည်းထားသော မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်အား နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ [ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ ဥပဒေအမှတ် ၄/၉၄ ] ၁၃၅၅ ခုနှစ်၊တပေါင်းလပြည့်ကျော်(၅)ရက် (၁၉၉၄ ခုနှစ်၊ မတ်လ(၃၁)ရက်) အခန်း(၇)ဥပဒေအမှတ်(၁၂၊၁၃)တို့အရ စီးပွားရေးစတင်သောနှစ်အပါအဝင် တဆက်တည်း(၃)နှစ်အတွင်း အခွန်များဆိုင်ရာ ကင်းလွတ်ခွင့်ပြုပေးပါရန် လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

အေးအေးစိန်
မန်နေဂျင်းဒါရိုက်တာ
မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်နီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၁၉၉၇ ခုနှစ်၊ ဇူလိုင်လ (၂၅)ရက်

အကြောင်းအရာ။ ။ မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်သည် မြန်မာနိုင်ငံသားများနှင့်သာဖွဲ့စည်းထားခြင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုတို့ကို တားဆီးကာကွယ်ခြင်း၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းတို့ကိုလိုက်နာပါမည့်အကြောင်းကတိခံဝန်ချက်။

မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်သည် မြန်မာနိုင်ငံသားများနှင့်သာဖွဲ့စည်းထားပါသည်။

မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်သည် ပတ်ဝန်းကျင်ညစ်ညမ်းမှုတို့ကိုတားဆီးကာကွယ်ပါမည်။

မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကိုလိုက်နာဆောင်ရွက်ပါမည်။

လေးစားစွာဖြင့်

အေးအေးစိန်
မန်နေဂျင်းဒါရိုက်တာ
မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၁၉၉၇ ခုနှစ် ဇူလိုင်လ (၂၅)ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံသားများနှင့်သာ ဖွဲ့စည်းထားသော မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်၏ ပြည်ထောင်စုမြန်မာနိုင်ငံ အတွင်း ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်။

မြန်မာနိုင်ငံသားများနှင့်သာ ဖွဲ့စည်းထားသောမြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံ မှု ဥပဒေအရ ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်ပုံစံ(မနသ – ၁ ) နှင့် လိုအပ်သော စာရွက်စာတမ်းများကို ပူးတွဲတင် ပြအပ်ပါသည်။

မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်သည် ၁၉၉၆ ခုနှစ် နိုဝင်ဘာလ (၂၇)ရက်နေ့တွင်မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ အမှတ် ၁၄၅၃ / ၁၉၉၆–၁၉၉၇ ခုနှစ်ဖြင့် မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက် အားပေးရန် တာဝန်ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် မှတ်ပုံတင်ခွင့်ပြုခဲ့ပြီးကြီးကြပ်အမှတ် ထသက – ၇၂၂၆၊ထုတ်ပေးသည့်ရက်စွဲ(၁၃.၂.၉၇)ဖြင့်ထုတ်ကုန်သွင်းကုန်လုပ်ငန်းရှင်အဖြစ်မှတ်ပုံတင်ခွင့်ပြုခဲ့ပါသည်။

ကျွန်မတို့၏မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်သည်ကာလတို၊ကာလရှည်စီမံကိန်းတို့ဖြင့် အသင့်ရောစပ်ထားပြီး ရေနွေးထည့်၍သောက်သုံးနိုင်သော 3 in 1 Instant Coffee Mix နှင့် ၎င်းနှင့်ဆက်နွယ်သော ကုန်ပစ္စည်းများကိုပြည်တွင်းကုန်ကြမ်းအဓိကထားအသုံးပြု၍မိမိတို့၏ကိုယ်ပိုင်အမှတ်တံဆိပ်၊ကိုယ်ပိုင်စံညွှန်း တို့ဖြင့် အဆင့်မြင့်မြင့်ထုတ်လုပ်ပြီး ပြည်တွင်းပြည်ပတို့ကိုရောင်းချဖြန့်ဖြူးလိုပါသည်။

မြတ်မြင့်မိုရ်ကုမ္ပဏီမှဆောင်ရွက်မည့်ကာလတို၊ကာလရှည်စီမံကိန်းများကို အောက်ပါအတိုင်းတင်ပြအပ်ပါ သည်။

## ကာလတိုစီမံကိန်း

မြန်မာနိုင်ငံတွင် အသင့်ရောစပ်ပြီးလွယ်ကူစွာသောက်သုံးနိုင်သော 3 in 1 Instant Coffee Mix ၊ Tea Mix၊Creamer တို့အပြင်အသင့်ထုပ်ပိုးပြီး Instant Coffee,Creamer, သကြား တို့သည် သယ်ယူရာတွင်လည်းကောင်း၊ အသင့်သောက်သုံးရန်ထုပ်ပိုးပြီးဖြစ်၍ သောက်သုံးရာတွင်လည်းကောင်း၊ လွယ်ကူမှုရှိသဖြင့် ယခုအခါတွင်ပိုမို၍ အသုံးပြုလာကြပါသည်။

ထို့ကြောင့် မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်သည် အသင့်ရောစပ်ပြီးသောက်သုံးနိုင်သော3 in 1 Instant Coffee Mix နှင့် ၎င်းနှင့်ဆက်နွယ်သော ကုန်ပစ္စည်းတို့ကို မိမိတို့၏ကိုယ်ပိုင်အဆင်မြင့် စံချိန်၊ စံညွှန်း၊ ထုပ်ပိုးမှု၊ အမှတ်တံဆိပ်တို့ဖြင့်ထုတ်လုပ်၍ သင့်လျော်သောဈေးနှုန်းတို့ဖြင့်ပြည်တွင်း ဈေးကွက်တွင်ဝင်ရောက်ထိုးဖောက်ပြီး နိုင်ငံခြားသွင်းကုန်ပစ္စည်းအချို့နေရာတွင် တဖြည်းဖြည်းအစားထိုး၍ဖြန့်ဖြူးနိုင်ရန်ဧရိယာအကျယ်အဝန်း (၀.၆၉၆ ဧက)ရှိ အမှတ်၁၃၈(က) ရွှေပြည်သာစက်မှုဇုန်၊ ရန်ကုန်တိုင်းတွင်ထုတ်လုပ်ပါမည်။

ကော်ဖီစေ့တို့မှ Instant Coffee ကိုထုတ်လုပ်ရာတွင်စက်ပစ္စည်းကိရိယာတို့အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုမှာ ကြီးမြင့်ပါသည်။ လက်ရှိအနေအထားတွင် အဓိကကုန်ကြမ်းများဖြစ်သော Instant Coffee, Creamer နှင့် အထောက်အကူပြုကုန်ကြမ်းများဖြစ်သော ထုပ်ပိုးရန်လိုအပ်သည့်အရည်အသွေး မြင့်မားသော Aluminium Foil နှင့်တံဆိပ်ရိုက်ထားသောအရောင်ခြယ်ထားသည့် ပလတ်စတစ်အိတ်ခွံ (Outer Bag) တို့မှာ မြန်မာနိုင်ငံတွင် မထုတ်လုပ်သေးပါ။

ထို့အတွက် မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်အနေဖြင့် ပြည်ပမှစက်ပစ္စည်းများ၊ကိရိယာများအချို့နှင့် အဓိကကုန်ကြမ်းဖြစ်သော Instant Coffee, Creamer, အထောက်အကူကုန်ကြမ်းများဖြစ်သော Aluminium Foil, Outer Bags တို့နှင့်စက်ရုံဝန်ထမ်းများအသုံးပြုရန်နှင့်ကုန်ပစ္စည်းထုတ်ယူဖြန့်ဖြူးရေးတို့အတွက် မော်တော်ယာဉ်အချို့တို့ကိုမှာယူတင်သွင်း၍ ပြည်တွင်းမှထုတ်လုပ်သောစက်ကိရိယာပစ္စည်းများ၊အဓိကကုန်ကြမ်းဖြစ်သောသကြား၊အထောက်အကူပစ္စည်းများဖြစ်သောစက္ကူပုံးများနှင့်ပြည်တွင်းတွင်ရရှိနိုင်သောOpp Tapeတို့ဖြင့်အဆင်မြင့်၍အရသာကောင်းမွန်လှသောအသင့်ရောစပ်ပြီးအသင့်သောက်သုံးနိုင်သောထုပ်ပိုးပြီး 3 in 1 Instant Coffee Mix နှင့်၎င်းနှင့်ဆက်နွယ်သောကုန်ပစ္စည်းတို့ကို မြန်မာနိုင်ငံတွင် မြန်မာနိုင်ငံသားများဖြင့်သာဖွဲ့စည်းထားပြီးမြန်မာနိုင်ငံသားများ၏ကိုယ်ပိုင်တံဆိပ်နှင့်အဆင်မြင့်စွာ ရောစပ်ထားသောစံချိန်စံညွှန်းတို့ဖြင့်ထုတ်လုပ်ပြီးပြည်တွင်းပြည်ပဈေးကွက်များသို့သင့်လျော်သောဈေးနှုန်း တို့ဖြင့်လည်းကောင်း၊ ဈေးကွက်ယှဉ်ပြိုင်ဈေးနှုန်းတို့ဖြင့်လည်းကောင်း ဖြန့်ဖြူးရောင်းချလိုပါသည်။

## ငွေကြေးရင်းနှီးမြှုပ်နှံမှုအစီအစဉ်

မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်သည် မတည်ရင်းနှီးငွေအဖြစ် ကျပ်သိန်း(၂၀၀)ကိုစတင်၍ရင်းနှီးမြှုပ်နှံပါမည်။ ၎င်းစတင်ရင်းနှီးမြှုပ်နှံငွေများကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ အငှားချထားသောမြေ၊ မြေဖို့ခြင်း၊ လိုအပ်သောအဆောက်အဦးများ၊ ပရိဘောဂများ၊ လျှပ်စစ်ပစ္စည်းများ၊ မော်တော်ယာဉ်၊ အနေးသွားယာဉ်များ၊ ပြည်တွင်းမှထုတ်လုပ်သောစက်ပစ္စည်းကိရိယာများ၊ အသုံးဆောင်များ၊ စက်ရုံ၊ ရုံးသုံးပစ္စည်းများ၊ စာရေးကိရိယာများကို ကနဦးရင်းနှီးမြှုပ်နှံငွေ (Initial Capital) အနေဖြင့်လည်ကောင်း၊ပြည်တွင်းမှထုတ်လုပ်သောအမိကကုန်ကြမ်း၊အထောက်အကူကုန်ကြမ်းတို့နှင့်ရောင်းအားမြှင့်တင်ရာတွင်အသုံးပြုမည့် ကြော်ငြာများ၊အရောင်းတိုးမြှင့်ရေးလုပ်ငန်းများနှင့်စီမံခန့်ခွဲရေးစရိတ်တို့ကိုကနဦးလုပ်ငန်းလည်ပတ်ငွေ (Initial Working Capital) အနေဖြင့်လည်းကောင်း၊ ရင်းနှီးမြှုပ်နှံပါမည်။ (နောက်ဆက်တွဲ စာမျက်နှာ(၁) )

## ပြည်ပမှမှာယူတင်သွင်းမှုနှင့်ပေးချေခြင်း

မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်နှင့် SANMAS CO. PTE LTD တို့သည် အောက်ပါအတိုင်းအကြမ်းအားဖြင့် သဘောတူညီခဲ့ကြပါသည်။

## (၁) စက်ပစ္စည်းများ၊ ကိရိယာများနှင့် မော်တော်ယာဉ်များ

စင်္ကာပူနိုင်ငံ၊ SANMAS CO.PTE LTDသည်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်ရရှိပါက စက်ပစ္စည်းများ၊ ကိရိယာများနှင့်မော်တော်ယာဉ်များကိုကနဦးပေးပို့ပြီး၊ (၆)နှစ်ဆိုင်းငံ့ကာလအဖြစ်သတ်မှတ်ကာ၎င်း(၆)နှစ်တာကာလအတွင်းတွင်တူညီသောအရစ်ကျငွေချေစနစ်ဖြင့် အမေရိကန်ဒေါ်လာ(၁၆,၃၃၃)ကိုနှစ်စဉ်ပေးချေရပါမည်။

## (၂) ကုန်ကြမ်းပစ္စည်းများ

စင်္ကာပူနိုင်ငံမှ SANMAS CO.PTE LTD သည်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက် ရရှိပါက ကုန်ကြမ်းပစ္စည်းများကိုမြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်မှ အတည်ပြုအမှာစာရရှိတိုင်းကနဦးပေးပို့ပြီး ၎င်းအတွက် (၆)လပြည့်တိုင်းသက်ဆိုင်သည့်အမှာစာများ၏သင့်ငွေများကို(6 month credit term ) ဖြင့်ပေးချေရပါမည်။

## ပြည်ပသို့တင်ပို့ရောင်းချဖြန့်ဖြူးခြင်း

SANMAS CO.PTE LTDသည် မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်မှ 3 in 1 Instant Coffee Mix ထုတ်လုပ်မှု၏(၅၀%)ကို ပြန်လည်ဝယ်ယူ၍ ပြည်ပဈေးကွက်မှတဆင့် အပြည်ပြည်ဆိုင်ရာဈေးကွက်သို့ ထိုးဖောက်နိုင်ရန်သင့်လျော်သောဈေးနှုန်းဖြင့် ပြန်လည်ဝယ်ယူ၍ဖြန့်ဖြူးရောင်းချပါမည်။

## ကာလရှည်စီမံကိန်း

(၁) မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်သည် ပြည်တွင်းမှထုတ်လုပ်သောကော်ဖီစေ့တို့ကိုအသုံးပြု၍အသင့်လွယ်ကူစွာဖျော်သောက်နိုင်သောအရည်အသွေး၊အနံ့အရသာအမျိုးအစားကောင်းမွန်သည့် Instant Coffee အမျိုးမျိုးကို ထုတ်ပိုးမှုအရွယ်အစားအမျိုးမျိုးတို့ဖြင့် မိမိတို့၏ကိုယ်ပိုင်အမှတ်တံဆိပ်၊စံချိန်စံညွှန်းတို့ဖြင့် အောင်မြင်စွာထုတ်လုပ်၍ပြည်တွင်းပြည်ပဈေးကွက်များသာမက အပြည်ပြည်ဆိုင်ရာဈေးကွက်သို့ ထိုးဖောက်ဝင်ရောက်၍ဖြန့်ဖြူးရောင်းချနိုင်ရန်သုတေသနနှင့် ပြည်ပမှနည်းပညာရယူမှုတို့ဖြင့်ဖွံ့ဖြိုးတိုးတက်မှုတို့ကို အလေးထားဆောင်ရွက်ပါမည်။

မြတ်မြင့်မိုရ်ကုမ္ပဏီလီမိတက်သည် မိမိတို့၏ကိုယ်ပိုင်အမှတ်တံဆိပ်၊ စံချိန်စံညွှန်းတို့ဖြင့် Instant Coffee နှင့် 3 in 1 Instant Coffee Mix တို့ကိုသာမက ၎င်းတို့နှင့်ဆက်နွယ်သောကုန်ပစ္စည်းတို့ကိုပါ ထုတ်လုပ်၍ပြည်တွင်းပြည်ပ၊ အပြည်ပြည်ဆိုင်ရာဈေးကွက်သို့ဖြန့်ဖြူးရောင်းချပါမည်။

(၂) တချိန်တည်းမှာပင် ပြည်တွင်းနှင့်အပြည်ပြည်ဆိုင်ရာဈေးကွက်တို့တွင်တစ်စုံတရာသောအတိုင်းအတာအထိဈေးကွက်နေရာရရှိပါကမြန်မာနိုင်ငံအတွင်း သင့်လျော်သောဒေသတို့တွင်ကော်ဖီစေ့နှင့် မိမိတို့ထုတ်လုပ်မှုနှင့်သက်ဆိုင်သောကုန်ပစ္စည်းများ၏ကုန်ကြမ်းတို့ကို စိုက်ပျိုးပြီး၊ ထွက်ရှိလာသော ကုန်ကြမ်းတို့အားတိုးတက်ပြောင်းလဲလာသောနည်းပညာ၊ စက်မှုပညာတို့ဖြင့် မိမိတို့၏ ကုန်အမှတ်တံဆိပ်၊ အရည်အသွေး၊အနံ့အရသာကောင်းမွန်သောစံချိန်စံညွှန်းနှင့်အညီ ကုန်ကြမ်း၊ ကုန်ချောပစ္စည်းများကို ပြည်တွင်း၌အောင်မြင်စွာထုတ်လုပ်၍ ပြည်တွင်း ပြည်ပနှင့် အပြည်ပြည်ဆိုင်ရာဈေးကွက်များသို့ သင့်လျော်သောဈေးနှုန်း၊ ယှဉ်ပြိုင်ဈေးနှုန်းတို့ဖြင့် ကျယ်ပြန့်စွာဖြန့်ဖြူး တင်ပို့ရောင်းချနိုင်ရေး တို့ကို အထူးအလေးထား၍စီမံဆောင်ရွက်ပါမည်။

**အကျိုးအမြတ်များ**

မြစ်မြင့်မိုရ်ကုမ္ပဏီလီမိတက်သည်အလုပ်အကိုင်ရရှိရေး၊ကျွမ်းကျင်လုပ်သားများမွေးထုတ်ရေး၊ အပြည်ပြည်ဆိုင်ရာဆက်သွယ်မှု၊ နည်းပညာတိုးတက်ရယူမှု၊ သုတေသနနှင့်ဖွံ့ဖြိုးရေး၊ သွင်းကုန်အစားထိုးခြင်း၊ ဒေသဆိုင်ရာဖွံ့ဖြိုးမှု၊အပြည်ပြည်ဆိုင်ရာအတွေ့အကြုံတို့အပြင်အပြည်ပြည်ဆိုင်ရာဈေးကွက်သို့ မြန်မာ့ထုတ်ကုန်ပစ္စည်းများ ကျယ်ပြန့်စွာထိုးဖောက်ဝင်ရောက်နိုင်ရေး တို့ကိုတတပ်တအားမိမိတို့တတ်နိုင်သည့်ဘက်မှ ပါဝင်ပံ့ပိုးနိုင်မည်ဟုယုံကြည်မိပါသည်။

အထက်ဖော်ပြပါကာလတို့၊ ကာလရှည်စီမံကိန်းများကိုအောင်မြင်စွာ အကောင်အထည်ဖော်နိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီမြန်မာနိုင်ငံသားများနှင့်သာဖွဲ့စည်းထားသောမြစ်မြင့်မိုရ်ကုမ္ပဏီလီမိတက်၏အဆိုပြုချက်ကိုလက်ခံ၍ အားပေးပံ့ပိုးမှုတို့ဖြင့် ဆောလျင်စွာခွင့်ပြုမိန့်ထုတ်ပေးပါရန်လေးစားစွာ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

အေးအေးစိန်

မန်နေဂျင်းဒါရိုက်တာ

မြစ်မြင့်မိုရ်ကုမ္ပဏီလီမိတက်

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏

အဆိုပြုချက်

ပုံစံ (မနသ-၁)

မြန် မာ နိုင် ငံ သား များ ရင်း နှီး မြှုပ် နှံ မှု ဥ ပ ဒေ အ ရ

**ရင်း နှီး မြှုပ် နှံ လို သူ ၏ အ ဆို ပြု ချက်**

(ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

စာအမှတ်၊
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ ဇူလိုင်လ(၂၅)ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များ ကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏-

(က) အမည် ဒေါ်အေးအေးစိန် (မြတ်မြင့်မိုရ်ကုမ္ပဏီ)

(ခ) အဖအမည် ဦးချစ်စိန်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် LTA 000466

(ဃ) နေရပ်လိပ်စာ အမှတ်(၁၄/၃) စဉ့်အိုးတန်းလမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့

(င) လူမျိုး၊ ဘာသာ မြန်မာ၊ ဗုဒ္ဓဘာသာ

(စ) အဖွဲ့အစည်းအမည် မြတ်မြင့်မိုရ် ကုမ္ပဏီလီမိတက်

(ဆ) လုပ်ငန်းအမျိုးအစား အထွေထွေထုတ်ကုန်သွင်းကုန် လုပ်ငန်း

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက် (၄၂)၊
မြေကွက်အမှတ် (၁၃၈/က)၊ ရန်ကုန်တိုင်း

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏

(က) အမည် (၁)........................ (၂)........................
........................ ........................
........................ ........................

(ခ) အဘအမည် (၁)........................ (၂)........................
........................ ........................
........................ ........................

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်
(၁)........................ (၂)........................
........................ ........................
........................ ........................

(ဃ) နေရပ်လိပ်စာ (၁)........................ (၂)........................
........................ ........................
........................ ........................

(င) လူမျိုး၊ ဘာသာ (၁)........................ (၂)........................
........................ ........................
........................ ........................

(စ) အဖွဲ့အစည်းအမည် ................................................

(ဆ) လုပ်ငန်းအမျိုးအစား ................................................

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် ................................................

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ ခုထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြပူးတွဲရန် )

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား-

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း အသင့်သုံးနိုင်သော 3 in 1 Instant Coffee Mix

(ခ) ဝန်ဆောင်မှုလုပ်ငန်း –

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှု အမျိုးအစားကို ဖော်ပြရန်)

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ–

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

လီမိတက်ကုမ္ပဏီ၊ ဒါရိုက်တာအဖွဲ့ဝင်စာရင်းကိုပူးတွဲတင်ပြထားပါသည်။

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

–

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဍာန်–

(က) တစ်ဦးတည်းပိုင် –

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း –

(ဂ) လီမိတက်ကုမ္ပဏီ လီမိတက်ကုမ္ပဏီ **(နောက်ဆက်တွဲစာမျက်နှာ(၂၁))**

(ဃ) သမဝါယမအသင်း –

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/အများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့်အတည်ငွေရင်း အချိုးအစား၊ စီမံခန့်ခွဲသူ/ စီမံခန့်ခွဲမည့်သူများ၏အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲ တင် ပြရန်)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်း ဖြစ်ပါက–

(က) အစုစပ်တို့က ထည့်ဝင်မည့်အစုငွေ အချိုးအစားနှင့် ပမာဏ

–

(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား –

(ဂ) အစုဝင်များ၏တာဝန်နှင့် လုပ်ပိုင်ခွင့်များ –

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)။

၇။ သမဝါယမအသင်း/ လီမိတက်ကုမ္ပဏီဖြစ်ပါက –

(က) ခွင့်ပြု မတည်ငွေရင်း ............ ကျပ် ၂၀,၀၀၀,၀၀၀

(ခ) အစုရှယ်ယာ အမျိုးအစား ............ တစ်ရှယ်ယာ –ကျပ် ၂၀၀,၀၀၀

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ ရှယ်ယာပေါင်း ............ ၁၀၀

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ– **နောက်ဆက်တွဲစာမျက်နှာ (၁)**

(က) မတည်ငွေရင်းပမာဏ **(ကျပ်) (အမေရိကန်ဒေါ်လာ)**

(၁) ငွေပမာဏ ............ ၃,၃၇၇,၈၀၀
(နိုင်ငံခြား မတည်ငွေ ပါဝင်ပါက သီးခြား ဖော်ပြရန်)

(၂) စက်ပစ္စည်းကိရိယာများ ............ (ပြည်တွင်း) ၂၁၈,၀၀၀
တန်ဖိုးပမာဏ ............ (ပြည်ပ) ၅၈၈,၀၀၀ ၉၈,၀၀၀
(အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) ............
**(နောက်ဆက်တွဲ စာမျက်နှာ(၃))**

(၃) အဆောက်အအုံများ/ မြေ
မြေ ............ ၂,၀၀၀,၀၀၀
မြေဖို့ခြင်း ............ ၁,၂၅၀,၀၀၀
အဆောက်အအုံ ............ ၉,၀၀၀,၀၀၀

(၄) ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ
တန်ဖိုးပမာဏ ............ ၃,၆၁၁,၀၅၀
(အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်)
**(နောက်ဆက်တွဲစာမျက်နှာ(၄)(၅)(၆)(၇))**

(၅) ကုန်ကြမ်းပစ္စည်းတန်ဖိုး ပမာဏ ............ (ပြည်တွင်း) ၅၄၃,၁၅၀
(အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) (ပြည်ပ) ၁၀၂,၄၅၀ ၁၇,၀၇၅
**(နောက်ဆက်တွဲ စာမျက်နှာ(၈) )**

(စုစုပေါင်း) ၂၀,၆၉၀,၄၅၀ ၁၁၅,၀၇၅

(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့် –

| | ကျပ် | (အမေရိကန်ဒေါ်လာ) |
|---|---|---|
| **(နောက်ဆက်တွဲစာမျက်နှာ(၁))** | | |
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့် ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) – **(နောက်ဆက်တွဲစာမျက်နှာ(၃))** | ၅၈၈,၀၀၀ | ၉၈,၀၀၀ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့်အခြား အလားတူပစ္စည်းများ၏တန်ဖိုး (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) – **(နောက်ဆက်တွဲစာမျက်နှာ(၉))** | ၁၀၂,၄၅၀ | ၁၇,၀၇၅ |
| **(စုစုပေါင်း)** | ၆၉၀,၄၅၀ | ၁၁၅,၀၇၅ |
| (၃) ကျွမ်းကျင်မှု နည်းပညာရပ်များ၏ တန်ဖိုးပမာဏ | – | – |

(ဂ) တည်ဆောက်မှုကာလ ( ၈ ) လ

(ဃ) ပဏာမ စူးစမ်းလေ့လာမှု ပြုလုပ်မည့်ကာလ ( ၄ ) လ

(င) တည်ဆောက်မှု စတင်မည့်အချိန် ၁၉၉၇

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သော အချက်အလက်များ–

(က) လုပ်ငန်းအမျိုးအစား ပြည်တွင်းပြည်ပ ကုန်သွယ်မှုလုပ်ငန်း
(ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှု စသည်ဖြင့် ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသများ ရန်ကုန်တိုင်း
အမှတ်(၁၃၈)(က)၊ မဟော်ဂနီလမ်း၊ ရွှေပြည်သာစက်မှုဇုန်၊ ရန်ကုန်

(ဂ) ဆောင်ရွက်ပုံနည်းစနစ် Semi - Automatic

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက်–

| အမျိုးအစား | အရေအတွက် |
| --- | --- |
| ၁။ ဒီဇယ်ဆီ | ၃,၈၀၀ ဂါလံ |
| ၂။ ဓါတ်ဆီ | ၃၅၀ ဂါလံ |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက်–

| အားအသုံးပြုမှု | မြင်းကောင်ရေ |
| --- | --- |
| ၁။ လျှပ်စစ်ဓာတ်အား | ၃၀ |
| ၂။ ဓာတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား (လိုအပ်မှုရှိပါက) | ၅–၁၀ |
| ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | – |
| ၄။ သဘာဝဓာတ်ငွေ့သုံးစက်အား | – |
| ၅။ ပေးပို့သည့်အခြားအား (ရေအား/လေအား စသည်များ) | – |

(စ) နှစ်စဉ် ရေလိုအပ်ချက် ............ ၃၀၀,၀၀၀ ဂါလံ

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက်– **(နောက်ဆက်တွဲစာမျက်နှာ(၁၀))**

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
| --- | --- | --- | --- |
| ၁။ အဓိကကုန်ကြမ်း **(နောက်ဆက်တွဲစာမျက်နှာ (၁၀) )** | | | |
| (၁) Instant Coffee | MT | နောက်ဆက်တွဲစာမျက်နှာ (၁၀) | |
| (၂) Creamer | MT | ။ | ။ |
| (၃) Suger | MT | ။ | ။ |

၂။ အထောက်အကူကုန်ကြမ်း **(နောက်ဆက်တွဲစာမျက်နှာ (၁၀) )**

| | | | |
|---|---|---|---|
| (၁) Aluminium Foil | Roll | **နောက်ဆက်တွဲစာမျက်နှာ (၁၀)** | |
| (၂) Outer Bag | Pcs | ။ | ။ |
| (၃) Carton Box | Pcs | ။ | ။ |
| (၄) Opp Tape | Rolls | ။ | ။ |

၃။ စက်သုံးဆီ/ဓာတ်ငွေ့များ–

| | | | |
|---|---|---|---|
| (၁) ဒီဇယ်ဆီ | ဂါလံ | ၃,၈၀၀ ဂါလံ | ကျပ် ၅၄၅,၇၆၀ |
| (၂) ဓါတ်ဆီ | ဂါလံ | ၃၅၀ ဂါလံ | ၅၄,၂၄၀ |

(ဇ) အဆောက်အအုံ လိုအပ်ချက် 135'x 50' ပင်မအဆောက်အဦး၊ အဝီစိရေတွင်း၊ ရေစင်၊ ဂိုဒေါင်၊ ဝန်ထမ်းအိမ်ယာ၊ ဝန်ထမ်းများ၏ထမင်းစား အနားယူရန်အဆောက်အဦး၊ အမျိုးသား–အမျိုးသမီးရေချိုးခန်း (၂)၊ အိမ်သာ (၂)၊ အဝတ်လဲခန်း (၂)၊ ခြံဝင်းပတ်လည်အုတ်နံရံ

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်း လိုအပ်ချက် ရွှေပြည်သာစက်မှုဇုန်၊ နှစ် ၆၀ မြေငှားဂရမ် ၊ ၀.၆၉၆ ကေ

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ဆောင်ရွက်မည့်ဝန်ဆောင်မှု

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| 3 in 1 Instant Coffee Mix | Bags | နောက်ဆက်တွဲစာမျက်နှာ (၁၁) | |
| | | | |
| | | | |
| | | | |

(ဃ) ရောင်းချမည့်နည်းစနစ် (၁) ပြည်ပတင်ပို့ရောင်းချမှု-ထုတ်လုပ်မှု၏ ၅၀%
(၂) ပြည်တွင်းဖြန့်ဖြူးရောင်းချမှု-ထုတ်လုပ်မှု၏ ၅၀%
(၃) ..........................................

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ-

**(နောက်ဆက်တွဲစာမျက်နှာ(၁၂)(၁၃)(၁၄)(၁၅))**

| | ခန့်မှန်းငွေ | |
|---|---|---|
| | **ကျပ်ငွေ** | **နိုင်ငံခြားငွေ** |
| (က) လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့် ကျပ်ငွေ | **နောက်ဆက်တွဲ စာမျက်နှာ (၁၂)** | .................. |
| (ခ) လိုအပ်မည့် နိုင်ငံခြားသုံးငွေ | – | **နောက်ဆက်တွဲ စာမျက်နှာ (၁၃)** |
| (ဂ) ရရှိမည့် နိုင်ငံခြားသုံးငွေပမာဏ | – | **နောက်ဆက်တွဲ စာမျက်နှာ (၁၄)** |
| (ဃ) ပြည်ပသို့ တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | – | **နောက်ဆက်တွဲ စာမျက်နှာ(၁၄)** |
| (င) နှစ်စဉ် ပြည်တွင်း၌ ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | .......................... | **နောက်ဆက်တွဲ စာမျက်နှာ (၁၅)** |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းများစာရင်း-

(က) ပြည်တွင်းမှ လိုအပ်မည့်အမှုထမ်းများ-

| အမှုထမ်းအမျိုးအစား | **နောက်ဆက်တွဲစာမျက်နှာ (၂၀)** |
|---|---|

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ–

| ကျွမ်းကျင်မှုအမျိုးအစား | ဦးရေ | ခန့်ထားမည့်အချိန်ကာလ |
|---|---|---|
| – | – | – |

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ–

**(နောက်ဆက်တွဲစာမျက်နှာ(၁၄)(၁၅)(၁၆)(၁၇)(၁၈)(၁၉) )**

| | ကျပ်ငွေ | နိုင်ငံခြားငွေ (USD) |
|---|---|---|
| (က) နှစ်စဉ် ဝင်ငွေရရှိမှု | **နောက်ဆက်တွဲ(၁၅)(၁၈)(၁၉)** | **နောက်ဆက်တွဲ(၁၄)(၁၈)(၁၉)** |
| (ခ) နှစ်စဉ် လုပ်ငန်းကုန်ကျစရိတ် | **နောက်ဆက်တွဲ(၁၅)(၁၈)(၁၉)** | **နောက်ဆက်တွဲ(၁၄)(၁၈)(၁၉)** |
| (ဂ) နှစ်စဉ် အသားတင်အမြတ် | **နောက်ဆက်တွဲ(၁၅)(၁၈)(၁၉)** | **နောက်ဆက်တွဲ(၁၄)(၁၈)(၁၉)** |
| (ဃ) နှစ်အလိုက် ရင်းနှီးမြှုပ်နှံမှု | **နောက်ဆက်တွဲ(၁)** | **နောက်ဆက်တွဲ(၁)** |
| (င) အရင်းကျေကာလ | **နောက်ဆက်တွဲ(၁၅)(၁၇)(၁၈)(၁၉)** | **နောက်ဆက်တွဲ(၁၄)(၁၆)(၁၈)(၁၉)** |

(စ) အခြား အကျိုးအမြတ်များ

အနံ့အရသာကောင်းမွန်သော Instant Coffee, အပြင် ကာလတို၊ ကာလရှည်စီမံကိန်းတို့တွင် Creamer ၊သကြားနှင့် ၎င်းတို့နှင့် ဆက်နွယ်လျက်ရှိသော ကုန်ပစ္စည်းတို့ကိုပမာဏအမျိုးမျိုး၊ အရွယ်အမျိုးမျိုးဖြင့်အဆင်ပြေပြေ၊ သပ်ရပ်သန့်ရှင်းစွာထုပ်ပိုး၍ ပြည်တွင်းပြည်ပ၊ အပြည်ပြည်ဆိုင်ရာဈေးကွက်များသို့မိမိ တို့၏ ကိုယ်ပိုင်အမှတ်တံဆိပ်များဖြင့်ထုတ်လုပ်ဖြန့်ဖြူးရောင်းချနိုင်ပါမည်။

(ဆ) အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့် အခြေအနေ ၃၈ နေရာ

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြု တင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပင်ညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ၊

(ဂ) လက်ရှိ ဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်း/ ဖွဲ့စည်းခြင်းမရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

(ဃ) လက်ရှိ ဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိ အခြေအနေနှင့်ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

လက်မှတ်၊ ..............................................

အမည်၊ ......Daw. Aye. Aye. Sein......

ရာထူး၊ Managing Director
Myat Myint Moh Co., Ltd.

(လျှောက်ထားသူ)

နောက်ဆက်တွဲစာမျက်နှာ(၁)
**Appendix (1)**

**၈(က)(၁၊၂၊၃၊၄၊၅) ရင်းနှီးမြှုပ်နှံမှု**
**၁၂(ဃ) နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု**
**8(a) Investment**
**12(d) Yearly Investment**

INVESTMENT REQUIREMENT FOR MYAT MYINT MOH CO. LTD

| No. | Initial Capital Investment | | 1997 Kyats | 1997 USD $ |
|---|---|---|---|---|
| | Capital | | | |
| 1 | Land | | 2,000,000 | 0 |
| 2 | Land reclamation | | 1,250,000 | 0 |
| 3 | Building | | 9,000,000 | 0 |
| 4 | Machineries | | 218,000 | 66,000 |
| | Furniture and Industry use goods | | | |
| 5 | Furniture | 206,550 | | |
| 6 | Electronic | 899,500 | | |
| 7 | Motor Vehicle | 1,315,000 | | 32,000 |
| 8 | Equipment | 70,000 | | |
| 9 | Manufacture and office use | 1,110,000 | | |
| 10 | Stationary | 10,000 | | |
| | | | 3,611,050 | |
| | Total | | 16,079,050 | 98,000 |
| | Working Capital | | | |
| 11 | Raw materials | | 543,150 | 17,075 |
| 12 | Cash Balance | | 3,377,800 | 0 |
| | Total | | 3,920,950 | 17,075 |
| | GRAND TOTAL INITIAL INVESTMENT | | 20,000,000 | 115,075 |
| | GRAND TOTAL INITIAL INVESTMENT ( USD 1 = KYAT 6 ) | | 20,690,450 | |
| | GRAND TOTAL INITIAL INVESTMENT ( FEC 1 = KYAT 170 ) | | 39,562,750 | |

The payment of Foregin Currency Exchange arrangements are follows:
_ 6 year Defered Payment for Machineries and Motor Vehicle.
_ 6 months Credit terms for Raw Materials purchase agreed by SANMAS CO., PTE LTD and MYAT MYINT MOH CO.LTD.

နောက်ဆက်တွဲစာမျက်နှာ(၂)

**Appendix (2)**

**DEPRECIATION FOR THE YEAR OF 1998-2003**

| NO | Description | Original value kyat | Salvage value | Year of life | Depreciation 1998 kyat | Depreciation 1999 kyat | Depreciation 2000 kyat | Depreciation 2001 kyat | Depreciation 2002 kyat | Depreciation 2003 kyat |
|---|---|---|---|---|---|---|---|---|---|---|
| 1 | Building | 9,000,000 | 900,000 | 30 | 270,000.00 | 270,000.00 | 270,000.00 | 270,000.00 | 270,000.00 | 270,000.00 |
| 2 | Furniture | 206,550 | 41,310 | 6 | 27,540.00 | 27,540.00 | 27,540.00 | 27,540.00 | 27,540.00 | 27,540.00 |
| 3 | Electronic | 899,500 | 179,900 | 5 | 143,920.00 | 143,920.00 | 143,920.00 | 143,920.00 | 143,920.00 | - |
| 4 | Motor Vehicle | 1,315,000 | 131,500 | 10 | 118,350.00 | 118,350.00 | 118,350.00 | 118,350.00 | 118,350.00 | 118,350.00 |
| 5 | Mechineries | 218,000 | 43,600 | 6 | 29,066.67 | 29,066.67 | 29,066.67 | 29,066.67 | 29,066.67 | 29,066.67 |
| 6 | Equipment | 70,000 | 14,000 | 6 | 9,333.33 | 9,333.33 | 9,333.33 | 9,333.33 | 9,333.33 | 9,333.33 |
| | **Total** | **11,709,050** | **1,310,310** | | **598,210.00** | **598,210.00** | **598,210.00** | **598,210.00** | **598,210.00** | **454,290.00** |
| | **USD $** | | | | | | | | | |
| 1 | Machineries | 66,000 | 13,200 | 6 | 8,800.00 | 8,800.00 | 8,800.00 | 8,800.00 | 8,800.00 | 8,800.00 |
| 2 | Motor Vehicle | 32,000 | 3,200 | 10 | 2,880.00 | 2,880.00 | 2,880.00 | 2,880.00 | 2,880.00 | 2,880.00 |
| | **Total** | **98,000** | **16,400** | | **11,680.00** | **11,680.00** | **11,680.00** | **11,680.00** | **11,680.00** | **11,680.00** |

နောက်ဆက်တွဲစာမျက်နှာ(၃)

Appendix(3)

၈(က)(၂) ပြည်တွင်းစက်ပစ္စည်းကိရိယာများတန်ဖိုးပမာဏ

၈(ခ)(၁) နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့်စက်ပစ္စည်းများကိရိယာများစသည့်ပစ္စည်းတို့၏တန်ဖိုးပမာဏ

Mechineries

| Sr No. | Description | Country of Origin | Unit Price Kyats/Unit | Unit Price USD/Unit CIF Ygn | Quantity Unit | Amount Kyat | Amount USD CIF Ygn |
|---|---|---|---|---|---|---|---|
| 1 | Sealling Machine for Bags | Myanmar | 6,500 | 0 | 2 | 13,000 | 0 |
| 2 | Pounded Machine | Myanmar | 12,000 | 0 | 2 | 24,000 | 0 |
| 3 | Pounded Machine | Myanmar | 35,000 | 0 | 1 | 35,000 | 0 |
| 4 | Digital Weighing Machine | USA | 70,000 | 0 | 2 | 140,000 | 0 |
| 5 | Sealling Machine for Carton | Singapore | 3,000 | 0 | 2 | 6,000 | 0 |
| | Total | | | | 9 | 218,000 | |
| 6 | Auto Sachet Packaging Machine | Singapore | 0 | 24,000 | 2 | | 48,000 |
| 7 | Screw Conveyer | Singapore | 0 | 4,000 | 1 | | 4,000 |
| 8 | Blender | Singapore | 0 | 12,000 | 1 | | 12,000 |
| 9 | Weighing Machine | Singapore/ USA | 0 | 2,000 | 1 | | 2,000 |
| | Total | | | | 5 | | 66,000 |

နောက်ဆက်တွဲစာမျက်နှာ(၄)

Appendix(4)

ဂ(က)(၄) ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများတန်ဖိုးပမာဏ

Furniture and industry use goods

Furniture

| No. | Description | Unit price Kyat/Unit | Unit | Amount Kyats |
|---|---|---|---|---|
| 1 | Tables | 6,000 | 15 | 90,000 |
| 2 | Chairs | 800 | 22 | 17,600 |
| 3 | Aluminium Cardboard | 12,500 | 2 | 25,000 |
| 4 | Book Shelf (Big) | 3,000 | 2 | 6,000 |
| 5 | Book Shelf (Small) | 450 | 15 | 6,750 |
| 6 | Sitting table and chairs set | 15,000 | 1 | 15,000 |
| 7 | Meeting Table | 25,000 | 1 | 25,000 |
| 8 | Meeting Chairs | 1,500 | 8 | 12,000 |
| 9 | Dinning tables | 500 | 7 | 3,500 |
| 10 | Dinning chairs | 190 | 30 | 5,700 |
| | Total | | 103 | 206,550 |

နောက်ဆက်တွဲစာမျက်နှာ(၅)

Appendix (5)

<u>ဂ(က)(၄) ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများတန်ဖိုးပမာဏ</u>

**Furniture and Industry use goods**

**Electronics**

| No. | Description | Unit Price Kyat/Unit | Unit | Amount Kyats |
|---|---|---|---|---|
| 1 | Copier | 185,000 | 1 | 185,000 |
| 2 | Aircon 1 HP | 52,000 | 5 | 260,000 |
| 3 | Aircon 0.5 HP | 40,000 | 3 | 120,000 |
| 4 | Safe guard | 1,500 | 9 | 13,500 |
| 5 | Exhast Fan | 1,000 | 5 | 5,000 |
| 6 | Refregirator | 30,000 | 1 | 30,000 |
| 7 | Regulator | 20,000 | 3 | 60,000 |
| 8 | Transformer | 100,000 | 1 | 100,000 |
| 9 | Motor | 13,000 | 2 | 26,000 |
| 10 | Pump | 5,000 | 2 | 10,000 |
| 11 | Lighting | | | 90,000 |
| | Total | | 32 | 899,500 |

